# မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အမှုတွဲမှတ်တမ်း

**ကုမ္ပဏီအမည်** - Myanmar Pyi Hein Mon International Co., Ltd.

**လုပ်ငန်းအမည်** - ဆိုင်ကိုဒင်းသားချော ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၁၂.၇.၂၀၁၉ | အမှုတွဲ လက်ခံရရှိပါသည်။ | |
| ၂။ | ၂၂.၇.၂၀၁၉ | မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း၊ ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန၊ ပြည်နယ်သတ္တုတွင်းဦးစီးဌာနသို့ သဘောထားတောင်းခံခြင်း။ | |
| ၃။ | ၂၃.၇.၂၀၁၉ | ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း၊ | |
| ၄။ | ၃၁.၇.၂၀၁၉ | ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းမှ သဘောထားပြန်ကြားခြင်း။ | |
| ၅။ | ၁.၈.၂၀၁၉ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ သဘောထားပြန်ကြားခြင်း၊ | |
| ၆။ | ၂၉.၈.၂၀၁၉ | မွန်ပြည်နယ်အစိုးရအဖွဲ့မှ သဘောထားပြန်ကြားခြင်း၊ | |
| | | | |
| | | | |

ပုံစံ (၅-ခ)



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
# အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် မပန- ၀၀၇/၂၀၁၉ ၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၅ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဝင်းထိန်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၂၄၂)၊ အောက်လမ်းမကြီး၊ ရွှေတောင်ရပ်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)** ဦးပိုင်အမှတ်- ၉၁၀၀၁၁၊ ၁၁(က)၊ ၃၇၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ပငကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်)** ကျပ် ၄၀၁၀.၄၃၀ သန်း (အမေရိကန်ဒေါ်လာ ၁.၁၁၈ သန်း အပါအဝင် ကျပ် လေးထောင်တစ်ဆယ်သန်း လေးသိန်း သုံးသောင်း တိတိ )

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မဏ္ဍလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅
ဖက်စ် - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/ ၁ /နသေ/၂၀၁၉ (၃၄၅)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၅ ရက်

အကြောင်းအရာ။ **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် )၏ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာ အပေါ် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ ၏ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Myanmar Pyi Hein Mon International Company Limited (မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) ၏၂၀၁၉ ခုနှစ် ဇူလိုင်လ ၁၇ ရက် နေ့စွဲပါတင်ပြစာ

၁။ **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် )** မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင‌ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကစိုင်ကွင်း၊ ဦးပိုင်အမှတ်- ၉၁၀၁၁၁၁၁(က)၊၃၇ ရှိမြေ ၁၁.၈၇ ဧကတွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်း နှင့်ပတ်သက်ပြီး ၂၀၁၉ခုနှစ် နိုဝင်ဘာလ ၂၅ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ ၏ (၃/၂၀၁၉) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် )** အား အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် အတည်ပြုမိန့်အမှတ်၊ မပန- ၀၀၇/၂၀၁၉ ကို ထုတ်ပေးလိုက်သည်။

၂။ **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက် )** အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဘက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) အနေဖြင့် ဤအတည်ပြုမိန့် အရ အိုင်အိုဒင်းဆားချောထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့် နှင့်သက်သာခွင့် များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထား နိုင်သည်။

(ခ) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်း ချက်များအဖြစ် ထားရှိဆောင်ရွက်အကောင်အထည် ဖော်ရမည်။

(ဂ) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) အနေဖြင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုဥပဒေ ပုဒ်မ ဖ၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်း ထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

(ဃ) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်းထုတ်ပြန် ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့်မီးဘေးအန္တရာယ်ထိန်းသိမ်း ကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်း များ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

(စ) Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည် ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံ

ခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်)** သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါအသေးစိတ်များပါရှိသည့် နှစ်စဉ် အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့်ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်ဆိုဒ် သို့ တင်ပြရမည်။

(ဇ) **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်)** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ၁၉၇အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်ကသတ်မှတ် တောင်းခံသည့်ပုံစံ ဖြင့် တင်ပြရမည်။

၃။ **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်)** အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅(ဃ) အရ သက်ဆိုင်သည့်ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင်သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ **Myanmar Pyi Hein Mon International Company Limited ( မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်)** သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ် လျှင်သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ ပေးပို့ရမည်။

(ဒေါက်တာအေးစံ)
ဥက္ကဋ္ဌ

**Myanmar Pyi Hein Mon International Company Limited**

**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အတည်ပြုမိန့်

အတည်ပြုမိန့်အမှတ် မပန- ၀၀၇/၂၀၁၉ ၂၀၁၉ ခုနှစ် ဒီဇင်ဘာ လ ၅ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးဝင်းထိန်

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၂၄၂)၊ အောက်လမ်းမကြီး၊ ရွှေတောင်ရပ်၊ မော်လမြိုင်မြို့၊ မွန်ပြည်နယ်

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** အိုင်အိုဒင်းဆားချော့ထုတ်လုပ်ခြင်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)** ဦးပိုင်အမှတ်- ၉၁၀၀၁၁၊ ၁၁(က)၊ ၃၇၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ပငကျေးရွာအုပ်စု၊ သံဖြူဇရပ်မြို့နယ်

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်)** ကျပ် ၄၀၁၀.၄၃၀ သန်း (အမေရိကန်ဒေါ်လာ ၁.၁၁၈ သန်း အပါအဝင် ကျပ် လေးထောင်တစ်ဆယ်သန်း လေးသိန်း သုံးသောင်း တိတိ )

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၂ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** မြန်မာပြည်ဟိန်းမွန်အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ



၂၀၁၉ ခုနှစ် နိုဝင်ဘာလ ၂၅ ရက် (တနင်္လာနေ့) မွန်းလွဲ (၁၅:၀၀)နာရီအချိန် မွန်ပြည်နယ်အစိုးရ အဖွဲ့ရုံး အစည်းအဝေးခန်းမ၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ (၃/၂၀၁၉) အစည်းအဝေးမှတ်တမ်း

**အစည်းအဝေးတက်ရောက်ကြသူများ**

၁။ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များ အစည်းအဝေး တက်ရောက်ကြပါသည်-

| | | |
|---|---|---|
| (က) | ဒေါက်တာအေးဇံ<br>မွန်ပြည်နယ်ဝန်ကြီးချုပ် | ဥက္ကဋ္ဌ<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ခ) | ဦးဝဏ္ဏကျော်<br>ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဂ) | ဦးလှဝင်းတင်<br>အတွင်းရေးမှူး၊<br>မွန်ပြည်နယ်အစိုးရအဖွဲ့ | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဃ) | ဦးတင်ညို<br>ပြည်နယ်ဦးစီးမှူး<br>စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး<br>ဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (င) | ဦးအောင်အောင်လေး<br>ပြည်နယ်ဦးစီးမှူး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (စ) | ဦးဝင်းဘို<br>ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာမှူး<br>လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဆ) | ဦးမြင့်လွင်<br>ပြည်နယ်ဦးစီးမှူး<br>ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ<br>ညွှန်ကြားမှုဦးစီးဌာန | အတွင်းရေးမှူး<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |

၂။ သီးခြားဖိတ်ကြားထားသည့် အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးတက်ရောက်ကြပါသည်-

| | |
|---|---|
| (က) ဦးလှမြင့်၊ဒါရိုက်တာ | Water World Mawlamyine Co.,Ltd. |
| (ခ) ဦးအောင်သန့်ဇင်၊ လုပ်ငန်းတာဝန်ခံ | Water World Mawlamyine Co.,Ltd. |
| (ဂ) ဦးဝင်းထိန်၊ ဒါရိုက်တာ | Myanmar Pyi Hein Mon International Co.,Ltd. |

**အစည်းအဝေးမတက်ရောက်နိုင်သူများ**

၃။ အစည်းအဝေးမတက်ရောက်နိုင်သူများမရှိပါ။

**ရည်ရွယ်ချက်**

၄။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂/၂၀၁၉) အစည်းအဝေးမှတ်တမ်းနှင့် အတည်ပြုမိန့်များ ထုတ်ပေးမှုအား မှတ်တမ်းတင်ရန်နှင့် အတည်ပြုလျှောက်ထားလွှာများ တင်ပြလာသော Water World Mawlamyine Co.,Ltd.၏ အပန်းဖြေစခန်းနှင့် ကလေးကစားကွင်းဝန်ဆောင်မှုလုပ်ငန်း နှင့် Myanmar Pyi Hein Mon International Co.,Ltd. ၏ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်း (၂)ခုအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေး ဆွေးနွေးဆုံးဖြတ်ရန်။

**ဆွေးနွေးချက်များ**

၅။ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီအတွင်းရေးမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ ပြည်နယ်ဦးစီးမှူး ဦးမြင့်လွင်က ယခင်မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး(၂/၂၀၁၉)တွင် ဆွေးနွေးဆုံးဖြတ်ခဲ့သော အစည်းအဝေးမှတ်တမ်းနှင့် ယင်းအစည်းအဝေး ဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်နိုင်ရေးအတွက် ဆွေးနွေးတင်ပြပါသည်။

၆။ ယင်းနောက် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ အတွင်းရေးမှူးက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြုလျှောက်ထားလွှာတင်ပြလာသော Water World Mawlamyine Co.,Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အပန်းဖြေစခန်းနှင့်ကလေးကစားကွင်းဝန်ဆောင်မှုလုပ်ငန်း နှင့် Myanmar Pyi Hein Mon International Co.,Ltd.၏ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းအား တို့အား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေး ဆွေးနွေးဆုံးဖြတ်ပေးရန် တင်ပြပါသည်။

၇။ Water World Mawlamyine Co.,Ltd. မှ လုပ်ငန်းတာဝန်ခံက မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ မုရောင်းကျေးရွာအုပ်စု၊ ဦးပိုင်အမှတ်(၁၈၂၃/၂၂၄၉) ရှိမြေ (၃.၄၆) ကေနှင့်

ဦးပိုင်အမှတ် (၁၈၂၃/၂၂၅၀) ရှိမြေ (၀.၈၅)ကေ စုစုပေါင်းမြေ ၄.၃၁ကေတွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် အပန်းဖြေစခန်းနှင့်ကလေးကစားကွင်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်မည့် အခြေအနေများ၊ လုပ်ငန်းတည်ဆောက်ပြီးစီးမှုအခြေအနေများ၊ ဒေသခံဝန်ထမ်း(၄၉)ဦး အလုပ်ခန့်ထားနိုင် မည့် အခြေအနေနှင့်ကုမ္ပဏီ၏CSRဆောင်ရွက် မည့် အစီ အစဉ်များကို ရှင်းလင်းတင်ပြပါသည်။

၈။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က Water World Mawlamyine Co.,Ltd. ရေဆိုးရေညစ်စွန့်ပစ်ပုံအစီအစဉ်များ၊ အမှိုက်နှင့် ပတ်သက်သည့် အစီအမံများလိုအပ်ကြောင်း ပြောကြားပါသည်။

၉။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအဖွဲ့ဝင်၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ပြည်နယ်ဦးစီးမှူး ဦးအောင်အောင်လေးက ရေကူးကန်တွင် အသုံးပြုသောရေကို (၂) ပတ် (၁) ကြိမ် လဲလှယ်ရန်နှင့် ရေကို (၁) လ (၁) ကြိမ် ဓါတ်ခွဲစမ်းသပ်ပြီး ရုံးသို့ပုံမှန်တင်ပြရန် ညွှန်ကြားထားသော်လည်း ပြန်လည်တင်ပြခဲ့ခြင်း မရှိသေးကြောင်း ပြောကြားပါသည်။

၁၀။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က အမှိုက်နှင့် ပတ်သက်သည့် အစီအမံများဆောင်ရွက်ထားရှိမှုမရှိခြင်း၊ သန့်ရှင်းမှုအားနည်းခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ လိုအပ်ချက်များအပေါ် လမ်းညွှန်မှုများအား လိုက်နာတင်ပြရန် လိုအပ်နေခြင်းများကြောင့် ကုမ္ပဏီအနေဖြင့် လိုအပ်ချက်များပြည့်စုံမှသာ ထပ်မံပြန်လည်တင်ပြရန် ပြောကြားပါသည်။

၁၁။ ယင်းနောက် Myanmar Pyi Hein Mon International Co.,Ltd.မှ အုပ်ချုပ်မှုဒါရိုက်တာ ဦးဝင်းထိန်က မွန်ပြည်နယ်၊သံဖြူဇရပ်မြို့နယ်၊ ပငကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ်( ၉၊၁၀၊၁၁၊၁၁-က၊ ၃၇ ) ရှိမြေ (၁၁.၈၇) ကေတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည့်အစီအစဉ်များ၊ စက်ပစ္စည်းလိုအပ်/ဝယ်ယူမည့်အစီအစဉ်၊ ထုတ်လုပ်မှုနည်းစနစ်များ၊ ထုတ်ပိုးမှုစနစ်များကို ရှင်းလင်းတင်ပြပါသည်။

၁၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က မွန်ပြည်နယ်တွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း အားကြိုဆိုကြောင်း၊မြန်မာနိုင်ငံတွင်ကမ္ဘာ့အကောင်းဆုံးစက်ဖြင့် ပထမဆုံးဆောင်ရွက်သည့် အဆင့်မြင့်စားပွဲတင်ဆားထုတ်လုပ်ခြင်းလုပ်ငန်း ဖြစ်ခြင်းကြောင့် အားပေးကြောင်းပြောကြားခဲ့သည်။

**ဆုံးဖြတ်ချက်**

၁၃။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည်-

| စဉ် | အကြောင်းအရာ | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၂/၂၀၁၉)တွင်ဆွေးနွေးဆုံးဖြတ်ခဲ့သောအစည်းအဝေး မှတ်တမ်းနှင့်ယင်းအစည်းအဝေးဆုံးဖြတ်ချက်များအရအတည်ပြုမိန့်များထုတ်ပေးခဲ့ခြင်းအပေါ်မှတ်တမ်းတင် ရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီဝင်များ၊ |
| (ခ) | Water World Mawlamyine Co.,Ltd. ၏ အပန်းဖြေစခန်းနှင့် ကလေးကစားကွင်းဝန်ဆောင်မှုလုပ်ငန်းသည် အမှိုက်နှင့်ပတ်သက်သည့် အစီအမံများ ဆောင်ရွက်ထားရှိမှု မရှိခြင်း၊ သန့်ရှင်းမှုအားနည်းခြင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ လိုအပ်ချက်များအပေါ် လမ်းညွှန်မှုများအားလိုက်နာတင်ပြရန်လိုအပ်နေခြင်းများကြောင့် ကုမ္ပဏီအနေဖြင့် လိုအပ်ချက်များ ပြည့်စုံမှသာ ထပ်မံပြန်လည်တင်ပြရန်။ | Water World Mawlamyine Co.,Ltd. |
| (ဂ) | Myanmar Pyi Hein Mon Co.,Ltd.၏ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၊၁၀၊၁၁၊၁၁(က)၊၃၇)ရှိ မြေ (၁၁.၈၇)ဧကတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုင်ဒင်းဆားချော့ထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန် | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |

**အစည်းအဝေးပြီးဆုံးခြင်း**

၁၄။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၃/၂၀၁၉)အား (၁၆:၀၀)နာရီတွင် ပြီးဆုံးပါသည်။

မှတ်တမ်းတင်သူ

(လက်မှတ်)

မြင့်လွင်

အတွင်းရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ်၊ မရက/ဖ/ အစည်းအဝေး/ ၂၀၁၉ ( ၀၃၂ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

**ဖြန့်ဝေခြင်း**
အစည်းအဝေးတက်ရောက်သူများအားလုံး (ကုမ္ပဏီမှအပ)

မိတ္တူကို
 မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
 မျှောစာတွဲ/ ရုံးလက်ခံ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၆၅ | စာအမှတ်၊မရက/ ၆/အစည်းအဝေး/၂၀၁၉ (၀၇၁)

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅ | ရက်စွဲ၊ ၂၀၁၉ ခုနှစ် ၊ နိုဝင်ဘာလ ၂၂ ရက်

အကြောင်းအရာ။ **အစည်းအဝေးဖိတ်ကြားခြင်း**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏( ၃ /၂၀၁၉) ကြိမ်မြောက်အစည်းအဝေးကို အောက်ပါ အစီအစဉ်အတိုင်းကျင်းပပြုလုပ်မည်ဖြစ်ပါ၍ ကြွရောက်ပါရန် ဖိတ်ကြားအပ်ပါသည် -

(က) ကျင်းပမည့် နေ့ရက် - ၂၅ - ၁၁ -၂၀၁၉ (တနင်္လာနေ့)

(ခ) ကျင်းပမည့် အချိန် - ၁၅:၀၀ နာရီ

(ဂ) ကျင်းပမည့် နေရာ - မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်း

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဝင်များအားလုံး မပျက်မကွက် တက်ရောက်ပေးပါရန် မေတ္တာရပ်ခံလျက် အစည်းအဝေးအစီအစဉ်နှင့်အမှာစာများအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(မြင့်လွင်၊ အတွင်းရေးမှူး)

**ဖြန့်ဝေခြင်း**

ဒေါက်တာအေးဇံ (မွန်ပြည်နယ်ဝန်ကြီးချုပ်)

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝဏ္ဏကျော် (မွန်ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

အဖွဲ့ဝင်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

Committee invitation

ဦးလှဝင်းတင် (အတွင်းရေးမှူး၊ မွန်ပြည်နယ်အစိုးရအဖွဲ့)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးတင်ညို (ပြည်နယ်ဦးစီးဌာနမှူး၊ ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးအောင်အောင်လေး (ပြည်နယ်ဦးစီးဌာနမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝင်းဘို (ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ၊ မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးမြင့်လွင် (ပြည်နယ်ဦးစီးဌာနမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)
အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
Water World Mawlamyine Co.,Ltd.
Myanmar Pyi Hein Mon International Co.,Ltd.
ရုံးလက်ခံ
မျှောစာတွဲ

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အစည်းအဝေးအမှတ်စဉ် ( ၃/၂၀၁၉ )
## အစည်းအဝေးအစီအစဉ်

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း၊

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂ /၂၀၁၉)ကြိမ်မြောက်အစည်းအဝေးမှတ်တမ်းအား အတည်ပြုမှတ်တမ်းတင်ခြင်း၊

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂ /၂၀၁၉) ကြိမ်မြောက်အစည်းအဝေး ဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ခြင်း၊

**၄။ အတည်ပြုလျှောက်ထားလွှာတင်ပြလာမှုများအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် ဆွေးနွေးဆုံးဖြတ်ခြင်း-**

(က) Water World Mawlamyine Co.,Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အပန်းဖြေစခန်းနှင့် ကလေးကစားကွင်း ဝန်ဆောင်မှုလုပ်ငန်း

(ခ) Myanmar Pyi Hein Mon International Co.,Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်း

၅။ ဥက္ကဋ္ဌမှ နိဂုံးချုပ်ပြောကြားခြင်း၊

၆။ အစည်းအဝေး ပြီးဆုံးခြင်း ။




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မတီ

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း - ၀၅၇-၂၀၂၂၃၉၅

ဖက်(စ်) - ၀၅၇-၂၀၂၂၃၈၅

စာအမှတ်၊ မရက / ၁ / နသေ / ၂၀၁၉ (၀၂၉)

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

## မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ Myanmar Pyi Hein Mon International Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

၁။ Myanmar Pyi Hein Mon International Co.,Ltd. မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်(၉၊၁၀၊၁၁၊၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း **လုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ Myanmar Pyi Hein Mon International Co.,Ltd. သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- 101088030 ဖြင့် ၁၀-၄-၂၀၁၄ ရက်နေ့တွင် မှတ်ပုံတင်ထားသော မြန်မာနိုင်ငံသားကုမ္ပဏီ ဖြစ်ကြောင်းတွေ့ရှိရပါသည်။ ကုမ္ပဏီ တွင်ဒါရိုက်တာအစုရှင်(၄)ဦးပါဝင်ပြီး ကုမ္ပဏီ၏အစုရှယ်ယာ ၆၀% ကို ဒါရိုက်တာဦးဝင်းထိန် ပိုင်ဆိုင်ကြောင်း တွေ့ရှိရပါသည်။

၃။ Myanmar Pyi Hein Mon International Co.,Ltd. ၏ ငွေကြေးပိုင်ဆိုင်မှုအထောက်အထားအဖြစ် ၂၂-၁၀-၂၀၁၉ ရက်နေ့အထိ ကျပ်သန်း ၃၃.၃၆၈ ရှိကြောင်း Ayawaddy Farmer Development Bank ( Boaungkyaw Branch) ၏ Bank Statement တင်ပြထားပါသည်။

၄။ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်(၉၊၁၀၊၁၁၊၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် အိုင်အိုဒင်းဆားချောထုတ်လုပ်သည့် လုပ်ငန်းလုပ်ဆောင်ရန် ပုံစံ (၁၀၅)/ (၁၀၆) တင်ပြထားကြောင်း တွေ့ရှိရပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေသည် လယ်ယာမြေ အမျိုးအစား ဖြစ်ပြီး လယ်ယာမြေအခြားနည်း အသုံးပြုခွင့် ရရှိရေး အတွက် ဆောင်ရွက်ဆဲဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ **ကျပ်သန်း ၄၀၁၀.၄၃၀** ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) ငွေသား | - | ကျပ်သန်း | ၁၄၁၅.၀၀၀ (၀၀၀) |
| (ခ) စက်ပစ္စည်းများ | - | ကျပ်သန်း | ၁၆၇၃.၇၈၀ (၀၀၀) |
| | | | (USD 1118000 အပါအဝင်) |
| (ဂ) Transformerနှင့် ရုံးသုံးပစ္စည်း | - | ကျပ်သန်း | ၁၀၁.၆၅၀ (၀၀၀) |
| (ဃ) အဆောက်အဦကုန်ကျစရိတ် | - | ကျပ်သန်း | ၈၂၀.၀၀၀ (၀၀၀) |
| **စုစုပေါင်း** | - | ကျပ်သန်း | **၄၀၁၀.၄၃၀ (၀၀၀)** |

၆။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂ )နှစ်ဖြစ်ပါသည်။

၇။ လျှောက်ထားလွှာအရ အောက်ပါအဆောက်အဦများပါရှိကြောင်း ဖော်ပြထားပါသည်-

| | | |
|---|---|---|
| (က) စက်ရုံဂိုဒေါင် | (၁) ထပ် | ၁ လုံး |
| (ခ) ဆားကြမ်းဂိုဒေါင် | (၁) ထပ် | ၆ လုံး |
| (ဂ) ဆားချောဂိုဒေါင် | (၁) ထပ် | ၂ လုံး |
| (ဃ) ဆားရေကန် | | ၂ ကန် |
| **စုစုပေါင်း** | | **၉ လုံး/၂ကန်** |

၈။ နှစ်စဉ်ထုတ်လုပ်မှုပမာဏမှာ အောက်ပါအတိုင်းဖြစ်ကြောင်း တွေ့ရှိရပါသည်-

| | **တစ်နှစ်ထုတ်လုပ်မှု အရေအတွက်** | **တစ်တန်ဈေးနှုန်း (ကျပ်/တန်)** |
|---|---|---|
| (က) Iodine ဆားချော(၅၀)kg | ၁၀၀၀၀ | ၁၈၀၀၀၀ |
| (ခ) Iodine ဆားချော(၁) kg | ၅၀၀၀ | ၅၀၀၀၀၀ |
| (ဂ) Iodine ဆားချော(၅၀၀)kg | ၃၀၀၀ | ၆၀၀၀၀၀ |
| (ဃ) Iodine ဆားချော(၂၀၀)kg | ၂၀၀၀ | ၁၀၀၀၀၀ |
| (င) Power salt (၅၀) kg | ၂၀၀၀ | ၁၂၀၀၀၀၀ |
| (စ) ရိုးရိုးလုပ်ငန်းသုံးဆား | ၅၀၀၀ | ၁၂၀၀၀၀ |
| (ဆ) ဝဲ ( မြေဩဇာ) ဆား | ၃၀၀၀ | ၆၀၀၀၀ |
| **စုစုပေါင်း** | **၃၀၀၀၀** | |

၉။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၁၃၄)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၁၀၀၀၀၀ဝိ/) ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၃၀၀၀၀ဝိ/)ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ပြည်တွင်းဝန်ထမ်းများ ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူ ကောက်ခံ ပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက် နှင့်

ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၁၀။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်အတွက် လျှပ်စစ်စွမ်းအင်ဝန်ကြီးဌာနမှ (၃၁၅)KVA Transformer(၁)လုံး အားတင်ပြလျှောက်ထားဆောင်ရွက် သွားမည် ဖြစ်ပါသည်။

၁၁။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာဒီဇယ်(၇၅၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေးအတွက် အဝီစိတွင်း(၂)တွင်း တူးဖော်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၃။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းမှ** အဆိုပါလုပ်ငန်း၏ လျှပ်စစ်ဓါတ်အားသုံးစွဲမှုနှင့်ပတ်သက်ပြီး ကုမ္ပဏီအနေဖြင့် သံဖြူဇရပ်ဓာတ်အားခွဲရုံ ဓာတ်အားပေးထားသော ၁၁ ကေဗီ ပင ဓာတ်အားလိုင်းမှ ချိတ်ဆက်ရယူရန်၊ ဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရန်၊ တည်ဆောက်ခွင့်ကို သတ်မှတ်ထားသော ပုံစံအတိုင်း သက်ဆိုင်ရာ မြို့နယ်လျှပ်စစ် အင်ဂျင်နီယာရုံးမှတဆင့် ဌာနသို့ တင်ပြရန်၊ တည်ဆောက်ပြီးစီးပါက ဌာနသို့ တင်ပြရန်၊ ဌာနမှ စစ်ဆေးစမ်းသပ်ခြင်းနှင့် ဌာနမှ ခွင့်ပြုမှသာ လျှပ်စစ်ဓာတ်ဓာတ်အားသုံးစွဲခြင်းကို ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-က)**

(ခ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - **(နောက်ဆက်တွဲ-ခ)**

(၁) စက်ရုံအဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင်ဘေးအန္တရာယ်ရှိနိုင်သည့်အခြေအနေ မဖြစ်ရန်၊

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊

(၃) ဆားကုန်ကြမ်းများကို သိုလှောင်ကြိတ်ခွဲဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ပျက်စီးခြင်း မရှိစေရန်အတွက် အစီအမံများ ဆောင်ရွက်ရန်၊

(၄) အိုင်အိုဒင်းအချိုးကျ ရောစပ်နိုင်ရေးအတွက် ပညာရှင်များ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(၅) တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန်၊

(ဂ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-ဂ)**

(၁) ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေမည့်အစီအစဉ် (Environmental Impact Mitigation Plan- EIMP)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် (Waste Management Plan- WMP) ရေးဆွဲတင်ပြဆောင်ရွက်ရန်နှင့် အစီအစဉ်ပါအတိုင်း လက်တွေ့ကျကျလိုက်နာ ဆောင်ရွက်ရန်၊

(၂) စွန့်ပစ်ပစ္စည်းများနှင့် စွန့်ပစ်အရည်များအား ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်မည့်နည်းလမ်းများဖြင့် ပြန်လည်သန့်စင်ပြီးမှ စွန့်ပစ်ရန်၊

(၃) ထရန်စဖော်မာဆီ လဲလှယ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် အစီအမံများ စနစ်တကျထားရှိဆောင်ရွက်ရန်၊

(၄) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ ပြဋ္ဌာန်းသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၅) မီးဘေးလုံခြုံရေးစီမံချက်၊လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန်၊

(၆) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility CSR ) အား ဒေသဖွံ့ဖြိုးရေးလုပ်ငန်းဆောင်ရွက်ရန်၊

(၇) ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် အကောင်းဆုံးအသုံးပြုနိုင်မည့် နည်းလမ်းများကို အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ဃ) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး** က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၄.၈.၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃၂ /၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၈) အရ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားထား ပါသည်။ **(နောက်ဆက်တွဲ- ဃ)**

၁၄။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Myanmar Pyi Hein Mon International Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့် **အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းသည်** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထား သည့်လုပ်ငန်းများတွင်မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအားအသုံးပြုထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသော သက်ရောက်မှု ဖြစ်ပေါ်နိုင်သည့်လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ USD ၅ သန်း အောက်တွင်ရှိခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့်ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ဃ)၊ အမှတ်စဉ် (၂၉) အရ ISIC 1079 ဖြစ်ပြီး ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန် (၂) တွင်ပါဝင် ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှု ကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှတင်သွင်းမည့်စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအတွက် အကောက်ခွန်ကင်းလွတ်/ သက်သာ ခွင့် ရရှိခံစားနိုင်သည့်လုပ်ငန်းဖြစ် ပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍများတွင် ပါဝင်ပြီး ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာဖန်တီးပေးနိုင်ခြင်းနှင့် လုပ်ငန်းဆိုင်ရာပညာရပ်များ ရရှိနိုင်သည့် လုပ်ငန်းဖြစ်ပါသည်။

(ဆ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၅။ **Myanmar Pyi Hein Mon International Co.,Ltd.** မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင‌ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၁၀၊၁၁၊၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီး မြှုပ်နှံမှုဖြင့် **အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီး မြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြ လာခြင်းအား **အတည်ပြုမိန့်** ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

Memo 




နောက်ဆက်တွဲ (က)

**လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း**
**မွန် ပြည် နယ် -မော် လ မြိုင် မြို့**
စာအမှတ်၊ ၁၄၆၀ /၄အ-၂လ(မပ) /၂၀၁၉
ရက်စွဲ၊၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ( ၂၉ )ရက်

သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...... ၆၃၉ ......
နေ့ရက်စွဲ ..... ၃၁.၇.၂၀၁၉ .....
နေ့အချိန် ..... ၁၀ ၄၅ P.M .....
လက်ခံသူလက်မှတ် ..........

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည်ပြန်ကြားပေးခြင်း

ရည် ညွှန်းချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉)ရက်စွဲပါ စာအမှတ်၊မရက /၄/နကသ/၂၀၁၉(၀၂၃)

၁။ Myanmar Pyi Hein Mon Internation Co;Ltd မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင‌ကျေးရွာ၊ ကွင်းအမှတ်(၉၄၈)ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ်-၉-၁၀-၁၁-၁၁(က)၊ ၃၇ ရှိမြေ (၁၁.၈၇)ကေတွင် အိုင်အိုဒင်းဆား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အထက်ဖော်ပြပါ အိုင်အိုဒင်းဆား ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ၁၁/၀.၄ ကေဗွီ ၃၁၅ ကေဗွီအေ ထရန်စဖော်မာ ၁ လုံးတပ်ဆင်ပြီး လျှပ်စစ်ဓာတ်အားသုံးစွဲလိုခြင်းနှင့် ပတ်သက်၍ လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးလုပ်ငန်း၊ မွန်ပြည်နယ်အနေဖြင့် အောက်ဖော်ပြပါများအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(က) သံဖြူဇရပ်ဓာတ်အားခွဲရုံမှ ဓာတ်အားပေးထားသော ၁၁ ကေဗွီ ပင ဓာတ်အားလိုင်းမှ ဓာတ်အားချိတ်ဆက်ရယူရမည်ဖြစ်ပါသည်။

(ခ) ၁၁ ကေဗွီ ပင ဓာတ်အားလိုင်းသည် ခွဲရုံမှအဆိုပြုနေရာအထိ ဓာတ်အားလိုင်းအရှည် ၅.၅ မိုင်နှင့် ဝန်အား၂.၀ မဂ္ဂါဝပ်ရှိပါသည်။ ခွဲရုံနှင့် ဓာတ်အားလိုင်းအနေဖြင့် ဝန်အားနိုင်နင်းမှုရှိသဖြင့် ဓာတ်အားပေးနိုင်မှုရှိပါသည်။

(ဂ) ကာယကံရှင်အနေဖြင့် ၎င်း၏ခွဲရုံတည်ဆောက်မည့်နေရာအထိ ၁၁ ကေဗွီ ဓာတ်အားလိုင်း ပေ ၃၀၀ ခန့် ထပ်မံဆွဲသားရမည်ဖြစ်ပြီး ထို ဓာတ်အားလိုင်းနှင့် ၁၁/၀.၄ ကေဗွီ ၃၁၅ကေဗွီအေခွဲရုံတို့ အား ကာယကံရှင်၏အစီအစဉ်၊ ကုန်ကျစရိတ်တို့ဖြင့် ဌာနမှသတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရမည်ဖြစ်ပါသည်။

(ဃ)ဖော်ပြပါဓာတ်အားလိုင်းနှင့် ဓာတ်အားခွဲရုံများ တည်ဆောက်ခွင့်ကို သတ်မှတ်ထားသော ပုံစံများအတိုင်း (SOP) သက်ဆိုင်ရာ မြို့နယ်လျှပ်စစ်အင်ဂျင်နီယာရုံးမှတဆင့် ဌာနသို့တင်ပြရမည် ဖြစ်ပါသည်။

(င) ဌာနမှခွင့်ပြုသောအခါမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရမည် ဖြစ်ပါသည်။

(စ) တည်ဆောက်ပြီးစီးပါက ဌာနသို့တင်ပြခြင်း၊ ဌာနမှစစ်ဆေးစမ်းသပ်ခြင်းနှင့် ဌာနမှခွင့်ပြုမှသာ လျှပ်စစ်ဓာတ်အားသုံးစွဲခြင်းတို့ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

( ဝင်းဘို )
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

မိတ္တူကို-

- မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့
- ညွှန်ကြားရေးမှူး၊ မွန်ပြည်စည်ပင်သာယာရေးအဖွဲ့၊ မော်လမြိုင်မြို့
- ပြည်နယ်ဦးစီးမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မော်လမြိုင်မြို့
- ရုံးလက်ခံ




နောက်ဆက်တွဲ (ခ)

ပြည် နယ် ဦး စီး ဌာ န မှူး ရုံး

မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်

စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့

စာအမှတ်၊ ၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၂၆၃၇)

ရက်စွဲ ၊ ၂၀၁၉ ခု နှစ် ဇူလိုင်လ ၂၃ ရက်

သို့

✓မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နသေ /၂၀၁၉ (၀၂၃)

၁။ Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ပရော့ကပိုင်ကွင်းဦးပိုင်အမှတ် – ၉၊၁၀၊၁၁၊၁၁(က)၊၃၇ ရှိမြေ မြေဧရိယာ (၁၁.၈၇) ဧကတွင် အိုင်အိုဒင်းဆားချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များ ဆောင်ရွက်ရန်လိုပါသည်-

(က) အိုင်အိုဒင်းဆားချော ထုတ်လုပ်မည့်စက်ရုံ၏ အဆောက်အဦနှင့် တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ် ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက်မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဇာတ်တိုက်လေ့ကျင့် သွားရန်လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်းကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွားရန်နှင့် သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ် ပါသည်။

(ဂ) အသုံးပြုသောဆားကုန်ကြမ်းများကို သိုလှောင်ခြင်း၊ကြိတ်ခွဲခြင်းများဆောင်ရွက်မှု ကြောင့်ပတ်ဝန်းကျင်မြေဆီလွှာများ၊ ပျက်စီးခြင်းမရှိစေရန်နှင့် ဘေးအန္တရာယ် ဖြစ်ပေါ်စေနိုင်ခြင်းမရှိစေရန် အစီအမံများဖြင့် ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) အိုင်အိုဒင်းဆားချောထုတ်လုပ်မှုနည်းစဉ်တွင် ကျန်းမာရေးနှင့် ညီညွတ်သော ဆားကုန်ချောများရရှိစေရန် ဆားကုန်ကြမ်းများအားအိုင်အိုဒင်း အချိုးကျရောစပ်

နိုင်ရေးအတွက် တတ်သိနားလည်ကျွမ်းကျင်မှုရှိသော ပညာရှင်များ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

( c) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ **Myanmar Pyi Hein Mon International Co.,Ltd** မှ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (ဂ)



ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၉၃၉ / အီးအိုင်အေ / ၂၀၁၉
ရက်စွဲ၊၂၀၁၉ခုနှစ်၊ ဇူလိုင်လ၊ ၃၁ ရက်

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်



အကြောင်းအရာ။ **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည်ညွှန်းချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/၄/နသ/၂၀၁၉(၀၂၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ် - ၉၊ ၁၀၊ ၁၁၊ ၁၁(က)၊ ၃၇ ရှိ မြေဧရိယာ(၁၁.၈၇) ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြလာခြင်းအပေါ် ကော်မတီမှ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပေးနိုင်ပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Myanmar Pyi Hein Mon International Co.,Ltdမှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေအကျယ်အဝန်းမှာ (၁၁.၈၇)ဧကဖြစ်ပြီး ၁၅၀ပေ×၄၀ပေ ပင်မစက်ရုံဂိုဒေါင်(၁)လုံး၊ ၁၅၀ပေ×၃၀ပေ ဆားကြိမ်းဂိုဒေါင် (၆)လုံး၊ ၁၂၀ပေ×၃၀ပေ ဆားချောဂိုဒေါင်(၂)လုံး၊ ၄၀ပေ×၃၀ပေ ဆားရေကန်(၂)ကန်တို့ တည်ဆောက်မည်ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းဆောင်ရွက်မည့်မြေသည် လယ်ယာမြေအမျိုးအစားဖြစ်ပြီး လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိရေးအတွက် ဆောင်ရွက်ဆဲဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်း၏အရှေ့ဘက်တွင် ဦးဝင်းထိန်ပိုင်ဆားကွင်း၊ အနောက်ဘက်တွင် ပင ချောင်း၊ တောင်ဘက်တွင် ဦးစိုးသိန်းဆားကွင်း၊ မြောက်ဘက်တွင် ပင်ကျေးရွာလူနေအိမ်ခြေအချို့နှင့် ဆားစက်အဟောင်းတို့ရှိကြောင်း၊

(ဃ) ဝန်ထမ်းအင်အား(၁၃၄)ဦး ခန့်အပ်သွားမည်ဖြစ်ပြီး အသက်အရွယ်အပိုင်းအခြားမှာ (၂၅)နှစ်မှ(၅၀)နှစ်ကြားဖြစ်ကြောင်း၊

(င) လျှပ်စစ်သုံးစွဲမှုအနေဖြင့် (315) KVA Transformer တစ်လုံးတပ်ဆင်မည်ဖြစ်ပြီး လျှပ်စစ်မီးပြတ်တောက်ခြင်းအတွက် (300) KVA မီးစက်တစ်လုံးကိုလည်း အသုံးပြုမည်ဖြစ်ကြောင်း၊

(စ) အဆိုပြုလုပ်ငန်းတွင်ဓာတုပစ္စည်းသုံးစွဲမှုမရှိကြောင်း၊ ကုန်ချောအားဖြင့်စားပွဲတင်ဆား၊ ပေါင်ဒါဆား၊ဆားချီးတို့ထွက်ရှိမည်ဖြစ်ကြောင်းနှင့် တစ်ရက်လျှင်တန်(၁၀၀)ခန့်ထွက်ရှိမည်ဖြစ်ကြောင်း၊

(ဆ) ဆားထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်အနေဖြင့် ဆားကုန်ကြမ်းများကို ကြိတ်စက်တွင်ပြည့်ဝပျော်ဝင်ရည်နှင့်ရေတို့ဖြင့် ကြိတ်ခွဲခြင်း၊ ကြိတ်ခွဲပြီးဆားများကို စတီးပေါင်းအိုးတွင်ထည့်၍အနည်အနှစ်ဖယ်ရှားခြင်း၊ ခါစက်သို့ပို့ခြင်း၊အခြောက်ခံစက်တွင်အခြောက်ခံခြင်း၊ အိုင်အိုဒင်းဓာတ်ဖြည့်ခြင်း၊ ထပ်မံ၍အခြောက်ခံခြင်းနှင့် ထုတ်ပိုးခြင်းအဆင့်တို့ပါဝင်ကြောင်း။

၃။ Myanmar Pyi Hein Mon International Co.,Ltdမှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) အဆိုပြုလုပ်ငန်းမှထွက်ရှိလာမည့်စွန့်ပစ်နှုန်းများကို သေချာစွာစွန့်ပစ်ဆောင်ရွက်ခြင်းမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုများဖြစ်ပေါ်လာနိုင်ကြောင်း၊

(ခ) လျှပ်စစ်မီးပြတ်တောက်ချိန်တွင် အင်ဂျင်မီးစက်ကို အသုံးပြုမည်ဖြစ်သဖြင့် အသုံးပြုမည့်လောင်စာများမှ အခိုးအငွေ့များထွက်ရှိခြင်းကြောင့် စက်ရုံအတွင်းရှိ လုပ်သားများနှင့်စက်ရုံဧရိယာ အနီးပတ်ဝန်းကျင်နေထိုင်သူ ပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုများ၊ အသက်ရှူလမ်းကြောင်းဆိုင်ရာပြဿနာများ ဖြစ်ပေါ်နိုင်ကြောင်း၊

(ဂ) လုပ်ငန်းဆောင်ရွက်ရန် လိုအပ်သော လျှပ်စစ်ဓာတ်အားအတွက် (315) KVA Transformer တစ်လုံးအား အသုံးပြုသွားမည်ဖြစ်ပြီး Transformer အဆီတွင် ပါဝင်သော Polychlorinated biphenyls (PCBs)သည် ပတ်ဝန်းကျင်ကို ညစ်ညမ်းစေသော ကြာရှည်စွာမပျောက်မပျက်တည်မြဲနေနိုင်သည့် အော်ဂဲနစ်ဓာတုပစ္စည်း (Persistent Organic Pollutants-POPs) တစ်မျိုးဖြစ်ကာ အဆိပ်အပြင်းစားဖြစ်ခြင်း၊ ဖျက်ဆီးရန်မလွယ်ကူခြင်း၊ အဆီလွှာတွင်စုနေနိုင်ခြင်း၊ ရေစီးကြောင်းနှင့် လေတိုက်ခတ်ခြင်းမှ တစ်ဆင့်မိုင်ပေါင်းများစွာသို့ ရောက်ရှိနေနိုင်ခြင်း စသည့် ဂုဏ်သတ္တိများရှိသော ဓာတုပစ္စည်းဖြစ်သည့်အပြင် ကင်ဆာရောဂါ၊ ကိုယ်အင်္ဂါချို့တဲ့ခြင်း၊ မိခင်မှရင်သွေးထံသို့ နို့ရည်မှတစ်ဆင့်အော်ဂဲနစ်ပစ္စည်းများရောက်ရှိနိုင်ပြီး ကလေး၏ ကာယ၊ဉာဏဖွံ့ဖြိုးမှုကိုနှောင့်နှေးစေနိုင်ခြင်း၊ ခံနိုင်ရည်ခုခံစွမ်းအား ကျဆင်းခြင်း၊ မျိုးပွားအင်္ဂါရပ်ဆိုင်ရာ

ရောဂါများနှင့် အာရုံကြောများထိခိုက်ပျက်စီးစေနိုင်ခြင်းအစရှိသော ကျန်းမာရေးဆိုင်ရာ ပြဿနာများဖြစ်ပွားစေနိုင်ကြောင်း၊

(ဃ) တည်ဆောက်ရေးကာလတွင် စက်ယန္တရားများ အသုံးပြု၍ လုပ်ငန်းဆောင်ရွက်ခြင်းများမှ ဆူညံသံ၊ တုန်ခါမှု၊ အခိုးအငွေ့နှင့် ဖုန်မှုန့်များ၊ စွန့်ပစ်ပစ္စည်းများထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင်ထိခိုက်ညစ်ညမ်းမှုများ ရှိနိုင်ကြောင်း။

၄။ Myanmar Pyi Hein Mon International Co.,Ltd မှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်းသဘောထားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေမည့် အစီအစဉ် (Environmental Impact Mitigation Plan-EIMP)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် (Waste Management Plan-WMP) တို့အား စနစ်တကျ ရေးဆွဲပြီး မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြအတည်ပြုချက် ရယူဆောင်ရွက်သွားရန်နှင့် အဆိုပါ အစီအစဉ်များအတိုင်း လက်တွေ့ကျကျလိုက်နာ ဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာမှထွက်ရှိလာမည့်စွန့်ပစ်အစိုင်အခဲများ၊ စွန့်ပစ်အရည်များအားပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများဖြင့် စွန့်ပစ်ခြင်းနှင့်စွန့်ပစ်အရည်များအား ပြန်လည်သန့်စင်၍စွန့်ပစ်ခြင်းများဆောင်ရွက်ရန်၊

(ဂ) ထရန်စဖော်မာဆီ လဲလှယ်ရာတွင်လည်းကောင်း၊ ထပ်မံဖြည့်သွင်းရန် လိုအပ်သည့်အခါတွင်လည်းကောင်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် အစီအမံများ စနစ်တကျထားရှိဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းခွင်ဘေးအန္တရာယ်၊ မီးဘေးအန္တရာယ်၊ သဘာဝဘေးအန္တရာယ်နှင့် အရေးပေါ်အန္တရာယ်များအတွက်စီမံချက်များ ရေးဆွဲထားရှိရန်၊ သင်တန်းများပို့ချခြင်း/ လေ့ကျင့်သင်ကြားပေးခြင်းနှင့်ကြိုတင်ဆောင်ရွက်ထားခြင်းများ လုပ်ဆောင်ထားရန်၊ မီးချိတ်/ မီးကတ်/ရေ/သဲ/မီးသတ်ဆေးဗူးများ ပြည့်စုံလုံလောက်စွာထားရှိရန်၊ မီးသတ်ဆေးဗူးများ/မီးသတ်ရေကန်များအား စဉ်ဆက်မပြတ်ဖြည့်တင်းထားရှိရန်၊ မီးသတ်ဦးစီးဌာနမှအတည်ပြုပေးထားသော မီးဘေးစီမံချက်ပါအတိုင်း လုပ်ဆောင်ခြင်းနှင့်ဇာတ်တိုက်လေ့ကျင့်ခြင်းများဆောင်ရွက်ရန်၊

(င) လုပ်သားများ၏အသိပညာပြန့်ပွားရေး၊ လူနေမှုဘဝမြင့်မားရေးနှင့် ကျန်းမာရေး တို့ကိုအလေးထားဆောင်ရွက်သွားရန်၊

(စ) စီမံကိန်းအဆိုပြုသူသည် သက်ဆိုင်ရာဒေသခံများနှင့် တိုင်ပင်ဆွေးနွေးခြင်း၊ ဆန္ဒနှင့် သဘောထားများရယူခြင်းစသည့် အများပြည်သူပူးပေါင်းပါဝင်မှုဆိုင်ရာ လုပ်ငန်းများကိုလုပ်ဆောင်ပြီး ယင်းဆန္ဒနှင့် သဘောထားများကို အလေးထားဆောင်ရွက်သွားရန်၊

(ဆ) စတင်လုပ်ကိုင် ဆောင်ရွက်သည့်အဆင့်မှ စီမံကိန်းပိတ်သိမ်းပြီးနောက် အဆင့်များအထိ စီမံကိန်းကြောင့် ထိခိုက်ခံစားရသူများ/ ဒေသခံများအတွက် လူမှုစီးပွားဖွံ့ဖြိုးမှုလုပ်ငန်း(Corporate Social Responsibility - CSR) များဆောင်ရွက်ပေးရန်၊

(ဇ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ အခါအားလျော်စွာ စစ်ဆေးမှုများ အစစ်ဆေးခံနိုင်ရေး ဆောင်ရွက်ထားရှိရန်၊

(ဈ) လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် အကောင်းဆုံး အသုံးပြုနိုင်မည့် နည်းလမ်း (Best Available Practices) များကို အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(အောင်အောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

မှန်ပြည်နယ်

မိတ္တူကို-

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူး(ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းချုပ်ရေးဌာန)၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ခရိုင်တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့ ရုံးလက်ခံ

မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

အမှတ်(-), တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၂၉၅

ဖက်(စ်) ၀၅၇-၂၀၂၂၈၅


စာအမှတ်၊ မရက/၄ / နငသ / ၂၀၁၉ (၀၂၃ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

| |
|---|
| ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန မွန်ပြည်နယ် |
| ဝင်စာမှတ်ပုံတင်အမှတ်-----၁၁၀၅ |
| စာအမှတ်-------- -----ကကရ |
| စာလက်ခံရရှိသည့်ရက်စွဲ-၂၂--၇-၁၉ |
| စာများတင်ပြသည့်ရက်စွဲ ၂၂--၇- ၁၉ |

စာတင်ချိန် (၃း၄၀)

ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ
မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်နယ်ဦးစီးဌာနမှူး
သတ္တုတွင်းဦးစီးဌာန၊ ဆားလုပ်ငန်းဌာနခွဲ
မွန်ပြည်နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက်။ Myanmar Pyi Hein Mon International Co., Ltd. ၏ ၁၇-၇-၂၀၁၉ ရက်စွဲပါ တင်ပြစာ

၁။ Myanmar Pyi Hein Mon International Co., Ltd. မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်- ၉၊ ၁၀၊ ၁၁၊ ၁၁ (က)၊ ၃၇ ရှိ မြေ(၁၁.၈၇)ဧက တွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၇၂ (ခ)အရ အတည်ပြုလျှောက်ထားလွှာအား လက်ခံရရှိသည့်နေ့ရက်မှ ရက်ပေါင်း (၃၀)အတွင်း စိစစ်ပြီး မွန်ပြည်နယ်ဝန်ကြီးချုပ်ဥက္ကဋ္ဌ အဖြစ်ပါဝင်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေးသို့ တင်ပြဆုံးဖြတ်၍ အတည်ပြုမိန့် ထုတ်ပေးရမည်ဖြစ်ပါသည်။

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဝိုင်းဒေသကြီးနှင့်ပြည်နယ်အတွင်းဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအားစိစစ်ရာတွင် လိုက်နာကျင့်သုံးရမည့် လုပ်ထုံးလုပ်နည်း အပိုဒ် ၂၄ အရ **" ကော်မတီသည် အတည်ပြုလျှောက်ထားလွှာအား စိစစ်ရာတွင် သတ်မှတ်ထားသည့်အချိန်ကာလ အတွင်းပြီးမြောက်ရန် အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများနှင့်ဆွေးနွေးတိုင်ပင်နိုင်သည် "** ဟု ဖော်ပြပါရှိသဖြင့် အထက်ပါ Myanmar Pyi Hein Mon International Company Limited ၏ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းနှင့်ပတ်သက်ပြီး သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် လျှောက်ထားလွှာတစ်စုံ ပူးတွဲပေးပို့ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၄။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ဦးဝင်းထိန် ၊ ဖုန်းအမှတ် ၀၉- ၆၉၄၈၂၀၂၅၉ ၊ ၀၉- ၄၂၈၇၂၇၅၅၃ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

Myanmar Pyi Hein Mon International Company Limited

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်နယ်အစိုးရအဖွဲ့**

**မွန်ပြည်နယ်**

စာအမှတ်၊၂၀၀/၄-၃/အဖရ(မွန်)( ၀၄၂၅ )

ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

သို့

အတွင်းရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

(မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂-၇-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/၄/နသေ/၂၀၁၉(၀၂၃)

သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၊ ၁၀၊ ၁၁၊ ၁၁ (က)၊ ၃၇) ရှိ မြေ (၁၁.၈၇) ကေတွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ (၁၄-၈-၂၀၁၉)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၂/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၁၈)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )

(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး

လှည့်လည်စာတွဲ

ရုံးလက်ခံ

2 2019 August 51




**ကန့် သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၉၅

ဖက်(စ်) - ၀၅၇-၂၀၂၃၈၅

စာအမှတ်၊ မရက / ၁ / နသ / ၂၀၁၉ ( ၀၂၉ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ နိုဝင်ဘာလ ၂၂ ရက်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Myanmar Pyi Hein Mon International Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ **Myanmar Pyi Hein Mon International Co.,Ltd.** မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင‌ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်(၉၁၀၀၁၁၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ **Myanmar Pyi Hein Mon International Co.,Ltd.** သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-101088030 ဖြင့် ၁၀-၄-၂၀၁၄ ရက်နေ့တွင် မှတ်ပုံတင်ထားသော မြန်မာနိုင်ငံသားကုမ္ပဏီ ဖြစ်ကြောင်းတွေ့ရှိရပါသည်။ ကုမ္ပဏီ တွင်ဒါရိုက်တာအစုရှင်(၄)ဦးပါဝင်ပြီး ကုမ္ပဏီ၏အစုရှယ်ယာ ၆၀% ကို ဒါရိုက်တာဦးဝင်းထိန် ပိုင်ဆိုင်ကြောင်း တွေ့ရှိရပါသည်။

၃။ **Myanmar Pyi Hein Mon International Co.,Ltd.** ၏ ငွေကြေးပိုင်ဆိုင်မှုအထောက်အထားအဖြစ် ၂၂-၁၀-၂၀၁၉ ရက်နေ့အထိ ကျပ်သန်း ၃၃.၃၆၈ ရှိကြောင်း Ayawaddy Farmer Development Bank ( Boaungkyaw Branch) ၏ Bank Statement တင်ပြထားပါသည်။

၄။ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင‌ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်(၉၁၀၀၁၁၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် အိုင်အိုဒင်းဆားချောထုတ်လုပ်သည့်လုပ်ငန်းလုပ်ဆောင်ရန် ပုံစံ (၁၀၅)/ (၁၀၆) တင်ပြထားကြောင်း တွေ့ရှိရပါသည်။ လုပ်ငန်းဆောင်ရွက်မည့် မြေသည် လယ်ယာမြေ အမျိုးအစား ဖြစ်ပြီး လယ်ယာမြေအခြားနည်း အသုံးပြုခွင့် ရရှိရေးအတွက် ဆောင်ရွက်ဆဲဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်သန်း ၄၀၁၀.၄၃၀ ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည်-

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | - | ကျပ်သန်း | ၁၄၁၅.၀၀၀ (၀၀၀) |
| (ခ) | စက်ပစ္စည်းများ | - | ကျပ်သန်း | ၁၆၇၃.၇၈၀ (၀၀၀) (USD 1118000 အပါအဝင်) |
| (ဂ) | Transformerနှင့် ရုံးသုံးပစ္စည်း | - | ကျပ်သန်း | ၁၀၁.၆၅၀ (၀၀၀) |
| (ဃ) | အဆောက်အဦကုန်ကျစရိတ် | - | ကျပ်သန်း | ၈၂၀.၀၀၀ (၀၀၀) |
| | **စုစုပေါင်း** | - | **ကျပ်သန်း** | **၄၀၁၀.၄၃၀ (၀၀၀)** |

၆။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ (၂ )နှစ်ဖြစ်ပါသည်။

၇။ လျှောက်ထားလွှာအရ အောက်ပါအဆောက်အဦများပါရှိကြောင်း ဖော်ပြထားပါသည်-

| | | | |
|---|---|---|---|
| (က) | စက်ရုံဂိုဒေါင် | (၁) ထပ် | ၁ လုံး |
| (ခ) | ဆားကြမ်းဂိုဒေါင် | (၁) ထပ် | ၆ လုံး |
| (ဂ) | ဆားချောဂိုဒေါင် | (၁) ထပ် | ၂ လုံး |
| (ဃ) | ဆားရေကန် | | ၂ ကန် |
| | **စုစုပေါင်း** | | **၉ လုံး/၂ကန်** |

၈။ နှစ်စဉ်ထုတ်လုပ်မှုပမာဏမှာ အောက်ပါအတိုင်းဖြစ်ကြောင်း တွေ့ရှိရပါသည်-

| | | **တစ်နှစ်ထုတ်လုပ်မှု အရေအတွက်** | **တစ်တန်ဈေးနှုန်း (ကျပ်/တန်)** |
|---|---|---|---|
| (က) | Iodine ဆားချော(၅၀)kg | ၁၀၀၀၀ | ၁၈၀၀၀၀ |
| (ခ) | Iodine ဆားချော(၁) kg | ၅၀၀၀ | ၅၀၀၀၀၀ |
| (ဂ) | Iodine ဆားချော(၅၀၀)g | ၃၀၀၀ | ၆၀၀၀၀၀ |
| (ဃ) | Iodine ဆားချော(၂၀၀)g | ၂၀၀၀ | ၁၀၀၀၀၀ |
| (င) | Power salt (၅၀) kg | ၂၀၀၀ | ၁၂၀၀၀၀၀ |
| (စ) | ရိုးရိုးလုပ်ငန်းသုံးဆား | ၅၀၀၀ | ၁၂၀၀၀၀ |
| (ဆ) | ဝဲ ( မြေသြဇာ) ဆား | ၃၀၀၀ | ၆၀၀၀၀ |
| | **စုစုပေါင်း** | **၃၀၀၀၀** | |

၉။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၁၃၄)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၁၀၀၀၀၀၀ိ/) ဖြစ်ပြီး အနိမ့်ဆုံးလစာသတ်မှတ်ချက် (၃၀၀၀၀၀ိ/)ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ပြည်တွင်းဝန်ထမ်းများ ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူ ကောက်ခံ ပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက် နှင့်

ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၁၀။ လုပ်ငန်းအတွက် လျှပ်စစ်ဓါတ်အားလိုအပ်ချက်အတွက် လျှပ်စစ်စွမ်းအင်ဝန်ကြီးဌာနမှ (၃၁၅)KVA Transformer(၁)လုံး အားတင်ပြလျှောက်ထားဆောင်ရွက် သွားမည် ဖြစ်ပါသည်။

၁၁။ လုပ်ငန်းအတွက် နှစ်စဉ်စက်သုံးဆီလိုအပ်ချက်မှာဒီဇယ်(၇၅၀၀)ဂါလန်ဖြစ်ပြီး လုပ်ငန်းသုံးနှင့် မီးဘေးကာကွယ်ရေးအတွက် အဝီစိတွင်း(၂ )တွင်း တူးဖော်ဆောင်ရွက်မည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံအဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၃။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်းမှ** အဆိုပါလုပ်ငန်း၏ လျှပ်စစ်ဓါတ်အားသုံးစွဲမှုနှင့်ပတ်သက်ပြီး ကုမ္ပဏီအနေဖြင့် သံဖြူဇရပ်ဓာတ်အားခွဲရုံ ဓာတ်အားပေးထားသော ၁၁ ကေဗီ ပင ဓာတ်အားလိုင်းမှ ချိတ်ဆက်ရယူရန်၊ ဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရန်၊ တည်ဆောက်ခွင့်ကို သတ်မှတ်ထားသော ပုံစံအတိုင်း သက်ဆိုင်ရာ မြို့နယ်လျှပ်စစ် အင်ဂျင်နီယာရုံး မှတဆင့် ဌာနသို့ တင်ပြရန်၊ တည်ဆောက်ပြီးစီးပါက ဌာနသို့ တင်ပြရန်၊ ဌာနမှ စစ်ဆေးစမ်းသပ်ခြင်းနှင့် ဌာနမှ ခွင့်ပြုမှသာ လျှပ်စစ်ဓာတ်ဓာတ်အားသုံးစွဲခြင်းကို ဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-က)**

(ခ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - **(နောက်ဆက်တွဲ-ခ)**

(၁) စက်ရုံအဆောက်အဦနှင့်တည်နေရာသည် ပတ်ဝန်းကျင်ဘေးအန္တရာယ်ရှိနိုင်သည့်အခြေအနေ မဖြစ်ရန်၊

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊

(၃) ဆားကုန်ကြမ်းများကို သိုလှောင်ကြိတ်ခွဲဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ပျက်စီးခြင်း မရှိစေရန်အတွက် အစီအမံများ ဆောင်ရွက်ရန်၊

(၄) အိုင်အိုဒင်းအချိုးကျ ရောစပ်နိုင်ရေးအတွက် ပညာရှင်များ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(၅) တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန်၊

(ဂ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-ဂ)**

(၁) ပတ်ဝန်းကျင်ထိခိုက်မှုလျော့နည်းစေမည့်အစီအစဉ် (Environmental Impact Mitigation Plan- EIMP)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် **(Waste Management Plan- WMP)** ရေးဆွဲတင်ပြဆောင်ရွက်ရန်နှင့် အစီအစဉ်ပါအတိုင်း လက်တွေ့ကျကျလိုက်နာ ဆောင်ရွက်ရန်၊

(၂) စွန့်ပစ်ပစ္စည်းများနှင့် စွန့်ပစ်အရည်များအား ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်မည့်နည်းလမ်းများဖြင့် ပြန်လည်သန့်စင်ပြီးမှ စွန့်ပစ်ရန်၊

(၃) ထရန်စဖော်မာဆီ လဲလှယ်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် အစီအမံများ စနစ်တကျထားရှိဆောင်ရွက်ရန်၊

(၄) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဌာနမှ ပြဋ္ဌာန်းသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များ၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာကျင့်သုံးအကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(၅) မီးဘေးလုံခြုံရေးစီမံချက်၊လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာချောင်ချိရေးအစီအစဉ်များ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များ ရေးဆွဲဆောင်ရွက်ရန်၊

(၆) လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility CSR ) အား ဒေသဖွံ့ဖြိုးရေးလုပ်ငန်းဆောင်ရွက်ရန်၊

(၇) ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် အကောင်းဆုံးအသုံးပြုနိုင်မည့် နည်းလမ်းများကို အကောင်အထည်ဖော်ဆောင်ရွက်သွားရန်၊

(ဃ) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး** က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၄.၈.၂၀၁၉) ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်အစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၃၂ /၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၈) အရ ကန့်ကွက်ရန်မရှိကြောင်း ပြန်ကြားထား ပါသည်။ **(နောက်ဆက်တွဲ- ဃ)**

၁၄။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) Myanmar Pyi Hein Mon International Co.,Ltd. ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့် **အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းသည်** မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ် /ကန့်သတ် ထား သည့်လုပ်ငန်းများတွင်မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအားအသုံးပြုထားမှုမရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသော သက်ရောက်မှု ဖြစ်ပေါ်နိုင်သည့်လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ USD ၅ သန်း အောက်တွင်ရှိခြင်းများကြောင့် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့်ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(ဃ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(ဃ)၊ အမှတ်စဉ် (၂၉) အရ ISIC 1079 ဖြစ်ပြီး ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇ အရ ဇုန် (၂) တွင်ပါဝင် ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန်ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှု ကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှတင်သွင်းမည့်စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအတွက် အကောက်ခွန်ကင်းလွတ်/ သက်သာ ခွင့် ရရှိခံစားနိုင်သည့်လုပ်ငန်းဖြစ် ပါသည်။

(စ) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှု ကဏ္ဍများတွင် ပါဝင်ပြီး ဒေသခံများအတွက် အလုပ်အကိုင်အခွင့်အလမ်းများစွာဖန်တီးပေးနိုင်ခြင်းနှင့် လုပ်ငန်းဆိုင်ရာပညာရပ်များ ရရှိနိုင်သည့် လုပ်ငန်းဖြစ်ပါသည်။

(ဆ) နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility-CSR)အဖြစ် သတ်မှတ်ဆောင်ရွက်မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ **Myanmar Pyi Hein Mon International Co.,Ltd.** မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၊၁၀၊၁၁၊၁၁(က)၊၃၇) ရှိမြေ (၁၁.၈၇)ဧကတွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီး မြှုပ်နှံမှုဖြင့် **အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီး မြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြ လာခြင်းအား **အတည်ပြုမိန့်** ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



နောက်ဆက်တွဲ (က)

လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း
မွန် ပြည် နယ် -မော် လ မြိုင် မြို့
စာအမှတ်၊ ၁၄၈၀ /၄အ-၂လ(မပ) /၂၀၁၉
ရက်စွဲ၊၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ( ၂၉ )ရက်

သို့

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ......၆၃၉......
နေ့စွဲ ......၃၁.၇.၂၀၁၉......

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည်ပြန်ကြားပေးခြင်း

ရည် ညွှန်းချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉)ရက်စွဲပါ စာအမှတ်၊ မရက /၄/နကသ/၂၀၁၉(၀၂၃)

၁။ Myanmar Pyi Hein Mon Internation Co;Ltd မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပငကျေးရွာ၊ ကွင်းအမှတ်(၉၄၈)ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်-၉-၁၀-၁၁-၁၁(က)၊ ၃၇ ဧရိယာ (၁၁.၈၇)ဧကတွင် အိုင်အိုဒင်းဆား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးရန် ရည်ညွှန်းစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အထက်ဖော်ပြပါ အိုင်အိုဒင်းဆား ထုတ်လုပ်ခြင်းလုပ်ငန်းတွင် ၁၁/၀.၄ ကေဗွီ ၃၁၅ ကေဗွီအေ ထရန်စဖော်မာ ၁ လုံးတပ်ဆင်ပြီး လျှပ်စစ်ဓာတ်အားသုံးစွဲလိုခြင်းနှင့် ပတ်သက်၍ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း၊ မွန်ပြည်နယ်အနေဖြင့် အောက်ဖော်ပြပါများအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(က) သံဖြူဇရပ်ဓာတ်အားခွဲရုံမှ ဓာတ်အားပေးထားသော ၁၁ ကေဗွီ ပင ဓာတ်အားလိုင်းမှ ဓာတ်အားချိတ်ဆက်ရယူရမည်ဖြစ်ပါသည်။

(ခ) ၁၁ ကေဗွီ ပင ဓာတ်အားလိုင်းသည် ခွဲရုံမှအဆုံးပြုနေရာအထိ ဓာတ်အားလိုင်းအရှည် ၅.၅ မိုင်နှင့် ဝန်အား၂.၀ မဂ္ဂါဝပ်ရှိပါသည်။ ခွဲရုံနှင့် ဓာတ်အားလိုင်းအနေဖြင့် ဝန်အားနိုင်နင်းမှုရှိသဖြင့် ဓာတ်အားပေးနိုင်မှုရှိပါသည်။

(ဂ) ကာယကံရှင်အနေဖြင့် ၎င်း၏ခွဲရုံတည်ဆောက်မည့်နေရာအထိ ၁၁ ကေဗွီ ဓာတ်အားလိုင်း ပေ ၃၀၀ ခန့် ထပ်မံဆွဲသားရမည်ဖြစ်ပြီး ထို ဓာတ်အားလိုင်းနှင့် ၁၁/၀.၄ ကေဗွီ ၃၁၅ကေဗွီအေခွဲရုံတို့ အား ကာယကံရှင်၏အစီအစဉ်၊ ကုန်ကျစရိတ်တို့ဖြင့် ဌာနမှသတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရမည်ဖြစ်ပါသည်။

(ဃ)ဖော်ပြပါဓာတ်အားလိုင်းနှင့် ဓာတ်အားခွဲရုံများ တည်ဆောက်ခွင့်ကို သတ်မှတ်ထားသော ပုံစံများအတိုင်း (SOP) သက်ဆိုင်ရာ မြို့နယ်လျှပ်စစ်အင်ဂျင်နီယာရုံးမှတဆင့် ဌာနသို့တင်ပြရမည် ဖြစ်ပါသည်။

(င) ဌာနမှခွင့်ပြုသောအခါမှ သတ်မှတ်ထားသော စံချိန်စံညွှန်းအတိုင်း တည်ဆောက်ရမည်ဖြစ်ပါသည်။

(စ) တည်ဆောက်ပြီးစီးပါက ဌာနသို့တင်ပြခြင်း၊ ဌာနမှစစ်ဆေးစမ်းသပ်ခြင်းနှင့် ဌာနမှခွင့်ပြုမှသာ လျှပ်စစ်ဓာတ်အားသုံးစွဲခြင်းတို့ ဆောင်ရွက်ရမည်ဖြစ်ပါသည်။

( ဂင်းဘို )
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

မိတ္တူကို-

- မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မွန်ပြည်နယ်၊ မော်လမြိုင်မြို့
- ညွှန်ကြားရေးမှူး၊ မွန်ပြည်စည်ပင်သာယာရေးအဖွဲ့၊ မော်လမြိုင်မြို့
- ပြည်နယ်ဦးစီးမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မော်လမြိုင်မြို့
- ရုံးလက်ခံ



နောက်ဆက်တွဲ (ခ)



ပြည် နယ် ဦး စီး ဌာ န မှူး ရုံး
မွန် ပြည် နယ် စက် မှု ကြီး ကြပ် ရေး နှင့်
စစ် ဆေး ရေး ဦး စီး ဌာ န ၊ မော် လ မြိုင်မြို့
စာအမှတ်၊ ၁၅၁၅(၁-က)မပ-ဖွံ့ဖြိုး/၂၀၁၉(၂၆၅၇)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၂၃ ရက်

အမှတ်စဉ် ၀၃၇
နေ့စွဲ ၂၃.၇.၂၀၁၉
၁၃:၀၀ နာရီ

သို့

✓မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မော်လမြိုင်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက/ ၁/ နသေ /၂၀၁၉ (၀၂၃)

၁။ Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ပရော့ကပိုင်ကွင်းဦးပိုင်အမှတ် - ၉၊၁၀၊၁၁၊၁၁(က)၊၁၇ ရှိမြေ မြေဧရိယာ (၁၁.၈၇) ဧကတွင် အိုင်အိုဒင်းဆားချော ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီတင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်ရမည့်လုပ်ငန်းများ နှင့်ပက်သက်၍ အောက်ပါအချက်များ ဆောင်ရွက်ရန်လိုပါသည်-

(က) အိုင်အိုဒင်းဆားချော ထုတ်လုပ်မည့်စက်ရုံ၏ အဆောက်အဦနှင့် တည်နေရာသည် ပတ်ဝန်းကျင် ဘေးအန္တရာယ် ရှိနိုင်သည့်အခြေအနေ မရှိရန်လိုအပ်ပါသည်။

(ခ) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက်မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်များ ရေးဆွဲဆောင်ရွက်သွားရန်နှင့် အဆိုပါအစီအမံအတိုင်း ဇာတ်တိုက်လေ့ကျင့် သွားရန်လိုအပ်ပြီး မီးဘေးကာကွယ်ရေးပစ္စည်းကိရိယာများ၊ မီးသတ်ဆေးဗူး၊ မီးသတ်ရေကန်များ စနစ်တကျထားရှိဆောင်ရွက်သွားရန်နှင့် သက်ဆိုင်ရာဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ် ပါသည်။

(ဂ) အသုံးပြုသောဆားကုန်ကြမ်းများကို သိုလှောင်ခြင်း၊ကြိတ်ခွဲခြင်းများဆောင်ရွက်မှု ကြောင့်ပတ်ဝန်းကျင်မြေဆီလွှာများ၊ ပျက်စီးခြင်းမရှိစေရန်နှင့် ဘေးအန္တရာယ် ဖြစ်ပေါ်စေနိုင်ခြင်းမရှိစေရန် အစီအမံများဖြင့် ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) အိုင်အိုဒင်းဆားချောထုတ်လုပ်မှုနည်းစဉ်တွင် ကျန်းမာရေးနှင့် ညီညွတ်သော ဆားကုန်ချောများရရှိစေရန် ဆားကုန်ကြမ်းများအားအိုင်အိုဒင်း အချိုးကျရောစပ်

နိုင်ရေးအတွက် တတ်သိနားလည်ကျွမ်းကျင်မှုရှိသော ပညာရှင်များ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

( င) တည်ဆဲဥပဒေများ ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ဖြစ်ပါ၍ **Myanmar Pyi Hein Mon International Co.,Ltd** မှ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာခြင်း နှင့် ပတ်သက်၍ အထက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

တင်ညို
ပြည်နယ်ဦးစီးဌာနမှူး

မိတ္တူကို

ရုံးလက်ခံ

မျှောစာတွဲ



ညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်၊ မော်လမြိုင်မြို့
စာအမှတ်၊ ၉၃၉ / အီးအိုင်အေ / ၂၀၁၉
ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ ဇူလိုင်လ၊ ၃၁ ရက်



သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂.၇.၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/၄/နသ/၂၀၁၉(၁၂၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ် - ၉၊ ၁၀၊ ၁၁၊ ၁၁(က)၊ ၃၇ ရှိ မြေဧရိယာ(၁၁.၈၇) ဧကတွင် ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြလာခြင်းအပေါ် ကော်မတီမှ အဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပေးနိုင်ပါရန် မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Myanmar Pyi Hein Mon International Co.,Ltdမှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) လုပ်ငန်းဆောင်ရွက်မည့် မြေအကျယ်အဝန်းမှာ (၁၁.၈၇)ဧကဖြစ်ပြီး ၁၅၀ပေ×၄၀ပေ ပင်မစက်ရုံဂိုဒေါင်(၁)လုံး၊ ၁၅၀ပေ×၃၀ပေ ဆားကြမ်းဂိုဒေါင် (၆)လုံး၊ ၁၂၀ပေ×၃၀ပေ ဆားချောဂိုဒေါင်(၂)လုံး၊ ၄၀ပေ×၃၀ပေ ဆားရေကန်(၂)ကန်တို့ တည်ဆောက်မည်ဖြစ်ကြောင်း၊

(ခ) လုပ်ငန်းဆောင်ရွက်မည့်မြေသည် လယ်ယာမြေအမျိုးအစားဖြစ်ပြီး လယ်ယာမြေအခြားနည်းအသုံးပြုခွင့်ရရှိရေးအတွက် ဆောင်ရွက်ဆဲဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်း၏အရှေ့ဘက်တွင် ဦးဝင်းထိန်ပိုင်ဆားကွင်း၊ အနောက်ဘက်တွင် ပင ချောင်း၊ တောင်ဘက်တွင် ဦးစိုးသိန်းဆားကွင်း၊ မြောက်ဘက်တွင် ပငကျေးရွာလူနေအိမ်ခြေအချို့နှင့် ဆားစက်အဟောင်းတို့ရှိကြောင်း၊

(ဃ) ဝန်ထမ်းအင်အား(၁၃၄)ဦး ခန့်အပ်သွားမည်ဖြစ်ပြီး အသက်အရွယ်အပိုင်းအခြားမှာ (၂၅)နှစ်မှ(၅၀)နှစ်ကြားဖြစ်ကြောင်း၊

(င) လျှပ်စစ်သုံးစွဲမှုအနေဖြင့် (315) KVA Transformer တစ်လုံးတပ်ဆင်မည်ဖြစ်ပြီး လျှပ်စစ်မီးပြတ်တောက်ခြင်းအတွက် (300) KVA မီးစက်တစ်လုံးကိုလည်း အသုံးပြုမည်ဖြစ်ကြောင်း၊

(စ) အဆိုပြုလုပ်ငန်းတွင်ဓာတုပစ္စည်းသုံးစွဲမှုမရှိကြောင်း၊ ကုန်ချောအားဖြင့်စားပွဲတင်ဆား၊ ပေါင်ဒါဆား၊ဆားချီးတို့ထွက်ရှိမည်ဖြစ်ကြောင်းနှင့် တစ်ရက်လျှင်တန်(၁၀၀)ခန့်ထွက်ရှိမည်ဖြစ်ကြောင်း၊

(ဆ) ဆားထုတ်လုပ်မှုလုပ်ငန်းအဆင့်ဆင့်အနေဖြင့် ဆားကုန်ကြမ်းများကို ကြိတ်စက်တွင်ပြည့်ဝပျော်ဝင်ရည်နှင့်ရေတို့ဖြင့် ကြိတ်ခွဲခြင်း၊ ကြိတ်ခွဲပြီးဆားများကို စတီးပေါင်းအိုးတွင်ထည့်၍အနည်အနှစ်ဖယ်ရှားခြင်း၊ ခါစက်သို့ပို့ခြင်း၊အခြောက်ခံစက်တွင်အခြောက်ခံခြင်း၊ အိုင်အိုဒင်းဓာတ်ဖြည့်ခြင်း၊ ထပ်မံ၍အခြောက်ခံခြင်းနှင့် ထုတ်ပိုးခြင်းအဆင့်တို့ပါဝင်ကြောင်း။

၃။ Myanmar Pyi Hein Mon International Co.,Ltdမှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) အဆိုပြုလုပ်ငန်းမှထွက်ရှိလာမည့်စွန့်ပစ်နုန်းများကို သေချာစွာစွန့်ပစ်ဆောင်ရွက်ခြင်းမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုများဖြစ်ပေါ်လာနိုင်ကြောင်း၊

(ခ) လျှပ်စစ်မီးပြတ်တောက်ချိန်တွင် အင်ဂျင်မီးစက်ကို အသုံးပြုမည်ဖြစ်သဖြင့် အသုံးပြုမည့်လောင်စာများမှ အခိုးအငွေ့များထွက်ရှိခြင်းကြောင့် စက်ရုံအတွင်းရှိ လုပ်သားများနှင့်စက်ရုံဧရိယာ အနီးပတ်ဝန်းကျင်နေထိုင်သူ ပြည်သူများ၏ ကျန်းမာရေးထိခိုက်မှုများ၊ အသက်ရှူလမ်းကြောင်းဆိုင်ရာပြဿနာများ ဖြစ်ပေါ်နိုင်ကြောင်း၊

(ဂ) လုပ်ငန်းဆောင်ရွက်ရန် လိုအပ်သော လျှပ်စစ်ဓာတ်အားအတွက် (315) KVA Transformer တစ်လုံးအား အသုံးပြုသွားမည်ဖြစ်ပြီး Transformer အဆီတွင် ပါဝင်သော Polychlorinated biphenyls (PCBs)သည် ပတ်ဝန်းကျင်ကို ညစ်ညမ်းစေသော ကြာရှည်စွာမပျောက်မပျက်တည်မြဲနေနိုင်သည့် အော်ဂဲနစ်ဓာတုပစ္စည်း (Persistent Organic Pollutants-POPs) တစ်မျိုးဖြစ်ကာ အဆိပ်အပြင်းစားဖြစ်ခြင်း၊ ဖျက်ဆီးရန်မလွယ်ကူခြင်း၊ အဆီလွှာတွင်စုနေနိုင်ခြင်း၊ ရေစီးကြောင်းနှင့် လေတိုက်ခတ်ခြင်းမှ တစ်ဆင့်မိုင်ပေါင်းများစွာသို့ ရောက်ရှိနေနိုင်ခြင်း စသည့် ဂုဏ်သတ္တိများရှိသော ဓာတုပစ္စည်းဖြစ်သည့်အပြင် ကင်ဆာရောဂါ၊ ကိုယ်အင်္ဂါချို့တဲ့ခြင်း၊ မိခင်မှရင်သွေးထံသို့ နို့ရည်မှတစ်ဆင့်အော်ဂဲနစ်ပစ္စည်းများရောက်ရှိနိုင်ပြီး ကလေး၏ ကာယ၊ဉာဏဖွံ့ဖြိုးမှုကိုနှောင့်နှေးစေနိုင်ခြင်း၊ ခံနိုင်ရည်ခုခံစွမ်းအား ကျဆင်းခြင်း၊ မျိုးပွားအင်္ဂါရပ်ဆိုင်ရာ

ရောဂါများနှင့် အာရုံကြောများထိခိုက်ပျက်စီးစေနိုင်ခြင်းအစရှိသော ကျန်းမာရေးဆိုင်ရာ ပြဿနာများဖြစ်ပွားစေနိုင်ကြောင်း၊

(ဃ) တည်ဆောက်ရေးကာလတွင် စက်ယန္တရားများ အသုံးပြု၍ လုပ်ငန်းဆောင်ရွက်ခြင်းများမှ ဆူညံသံ၊ တုန်ခါမှု၊ အခိုးအငွေ့နှင့် ဖုန်မှုန့်များ၊ စွန့်ပစ်ပစ္စည်းများထွက်ရှိနိုင်ပြီး ပတ်ဝန်းကျင်ထိခိုက်ညစ်ညမ်းမှုများ ရှိနိုင်ကြောင်း။

၄။ Myanmar Pyi Hein Mon International Co.,Ltd မှ အဆိုပြုတင်ပြလာသော အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်းသဘောထားပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု လျော့နည်းစေမည့် အစီအစဉ် (Environmental Impact Mitigation Plan-EIMP)၊ စွန့်ပစ်ပစ္စည်းစီမံခန့်ခွဲမှုအစီအစဉ် (Waste Management Plan-WMP) တို့အား စနစ်တကျ ရေးဆွဲပြီး မွန်ပြည်နယ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ တင်ပြအတည်ပြုချက် ရယူဆောင်ရွက်သွားရန်နှင့် အဆိုပါ အစီအစဉ်များအတိုင်း လက်တွေ့ကျကျလိုက်နာ ဆောင်ရွက်ရန်၊

(ခ) လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ရာမှထွက်ရှိလာမည့်စွန့်ပစ်အစိုင်အခဲများ၊ စွန့်ပစ်အရည်များအားပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်းများဖြင့် စွန့်ပစ်ခြင်းနှင့်စွန့်ပစ်အရည်များအား ပြန်လည်သန့်စင်၍စွန့်ပစ်ခြင်းများဆောင်ရွက်ရန်၊

(ဂ) ထရန်စဖော်မာဆီ လဲလှယ်ရာတွင်လည်းကောင်း၊ ထပ်မံဖြည့်သွင်းရန် လိုအပ်သည့်အခါတွင်လည်းကောင်း ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေးအတွက် အစီအမံများ စနစ်တကျထားရှိဆောင်ရွက်ရန်၊

(ဃ) လုပ်ငန်းခွင်ဘေးအန္တရာယ်၊ မီးဘေးအန္တရာယ်၊ သဘာဝဘေးအန္တရာယ်နှင့် အရေးပေါ် အန္တရာယ်များအတွက်စီမံချက်များ ရေးဆွဲထားရှိရန်၊ သင်တန်းများပို့ချခြင်း/ လေ့ကျင့်သင်ကြားပေးခြင်းနှင့်ကြိုတင်ဆောင်ရွက်ထားခြင်းများ လုပ်ဆောင်ထားရန်၊ မီးချိတ်/ မီးကတ်/ရေ/သဲ/မီးသတ်ဆေးဗူးများ ပြည့်စုံလုံလောက်စွာထားရှိရန်၊ မီးသတ်ဆေးဗူးများ/မီးသတ်ရေကန်များအား စဉ်ဆက်မပြတ်ဖြည့်တင်းထားရှိရန်၊ မီးသတ်ဦးစီးဌာနမှအတည်ပြုပေးထားသော မီးဘေးစီမံချက်ပါအတိုင်း လုပ်ဆောင်ခြင်းနှင့်ဇာတ်တိုက်လေ့ကျင့်ခြင်းများဆောင်ရွက်ရန်၊

(င) လုပ်သားများ၏အသိပညာပြန့်ပွားရေး၊ လူနေမှုဘဝမြင့်မားရေးနှင့် ကျန်းမာရေး တို့ကိုအလေးထားဆောင်ရွက်သွားရန်၊

(စ) စီမံကိန်းအဆိုပြုသူသည် သက်ဆိုင်ရာဒေသခံများနှင့် တိုင်ပင်ဆွေးနွေးခြင်း၊ ဆန္ဒနှင့် သဘောထားများရယူခြင်းစသည့် အများပြည်သူပူးပေါင်းပါဝင်မှုဆိုင်ရာ လုပ်ငန်းများကိုလုပ်ဆောင်ပြီး ယင်းဆန္ဒနှင့် သဘောထားများကို အလေးထားဆောင်ရွက်သွားရန်၊

(ဆ) စတင်လုပ်ကိုင် ဆောင်ရွက်သည့်အဆင့်မှ စီမံကိန်းပိတ်သိမ်းပြီးနောက် အဆင့်များအထိ စီမံကိန်းကြောင့် ထိခိုက်ခံစားရသူများ/ ဒေသခံများအတွက် လူမှုစီးပွားဖွံ့ဖြိုးမှုလုပ်ငန်း(Corporate Social Responsibility - CSR) များဆောင်ရွက်ပေးရန်၊

(ဇ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များနှင့်စပ်လျဉ်း၍ အခါအားလျော်စွာ စစ်ဆေးမှုများ အစစ်ဆေးခံနိုင်ရေး ဆောင်ရွက်ထားရှိရန်၊

(ဈ) လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် အကောင်းဆုံး အသုံးပြုနိုင်မည့် နည်းလမ်း (Best Available Practices) များကို အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(အောင်အောင်လေး)

ညွှန်ကြားရေးမှူး

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

အမြဲတမ်းအတွင်းဝန် မှ မှန်ပြည်နယ်

မိတ္တူကို-

ဝန်ကြီး၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ မွန်ပြည်နယ်

ညွှန်ကြားရေးမှူး(ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းချုပ်ရေးဌာန)၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်

ခရိုင်တာဝန်ခံအရာရှိ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့

ရုံးလက်ခံ

မျှောစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

တတိယထပ်၊ မြို့နယ်စုပေါင်းရုံး၊ ရုံးကြီးလမ်း၊ ပန်းဘဲတန်းရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅

ဖက်(စ်)- ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/၄ / နသ /၂၀၁၉ (၆၂၃ )

ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇူလိုင် လ ၂၂ ရက်

သို့

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ
မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း

ညွှန်ကြားရေးမှူး
မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ပြည်နယ်ဦးစီးဌာနမှူး
သတ္တုတွင်းဦးစီးဌာန၊ ဆားလုပ်ငန်းဌာနခွဲ
မွန်ပြည်နယ်

ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
မွန်ပြည်နယ်
ဝင်စာမှတ်ပုံတင်အမှတ်-----၁၁၀၅
စာအမှတ်---------ကကရ
စာလက်ခံရရှိသည့်ရက်စွဲ-၂၂-၇-၁၉
စာများတင်ပြသည့်ရက်စွဲ-၂၂-၇-၁၉
စာတင်ချိန် (၃:၄၀)

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်း**

ရည် ညွှန်း ချက်။ Myanmar Pyi Hein Mon International Co., Ltd. ၏ ၁၇-၇-၂၀၁၉ ရက်စွဲပါ တင်ပြစာ

၁။ Myanmar Pyi Hein Mon International Co., Ltd. မှ မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ်- ၉၊ ၁၀၊ ၁၁၊ ၁၁(က)၊ ၃၇ ရှိ မြေ(၁၁.၈၇)ဧက တွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာတင်ပြလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်းဥပဒေ ၇၂ (ခ)အရ အတည်ပြုလျှောက်ထားလွှာအား လက်ခံရရှိသည့်နေ့ရက်မှ ရက်ပေါင်း (၃၀)အတွင်း စိစစ်ပြီး မွန်ပြည်နယ်ဝန်ကြီးချုပ်ဥက္ကဋ္ဌ အဖြစ်ပါဝင်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေးသို့ တင်ပြဆုံးဖြတ်၍ အတည်ပြုမိန့် ထုတ်ပေးရမည်ဖြစ်ပါသည်။

၃။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဝိုင်းဒေသကြီးနှင့်ပြည်နယ်အတွင်းဆောင်ရွက်မည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းများအားစိစစ်ရာတွင် လိုက်နာကျင့်သုံးရမည့် လုပ်ထုံးလုပ်နည်း အပိုဒ် ၂၄ အရ " ကော်မတီသည် အတည်ပြုလျှောက်ထားလွှာအား စိစစ်ရာတွင် သတ်မှတ်ထားသည့်အချိန်ကာလ အတွင်းပြီးမြောက်ရန် အစိုးရဌာန၊ အစိုးရအဖွဲ့အစည်းများနှင့်ဆွေးနွေးတိုင်ပင်နိုင်သည် "** ဟု ဖော်ပြပါရှိသဖြင့် အထက်ပါ Myanmar Pyi Hein Mon International Company Limited ၏ အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန် တင်ပြလာခြင်းနှင့်ပတ်သက်ပြီး သဘောထားမှတ်ချက်အား ၂၀၁၉ ခုနှစ်၊ ဇူလိုင်လ ၃၀ ရက်နေ့ နောက်ဆုံးထားပြန်ကြားပေးနိုင်ပါရန် လျှောက်ထားလွှာတစ်စုံ ပူးတွဲပေးပို့ ညှိနှိုင်းမေတ္တာရပ်ခံအပ်ပါသည်။

၄။ လုပ်ငန်းနှင့်စပ်လျဉ်း၍ ဦးဝင်းထိန် ၊ ဖုန်းအမှတ် ၀၉- ၆၉၄၈၂၀၂၅၉ ၊ ၀၉- ၄၂၈၇၂၇၅၅၃ သို့ ဆက်သွယ် ဆောင်ရွက်နိုင်ပါကြောင်း ဖော်ပြအပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြင့်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို

Myanmar Pyi Hein Mon International Company Limited

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)



**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**

**ပြည်နယ်အစိုးရအဖွဲ့**

**မွန်ပြည်နယ်**

စာအမှတ်၊ ၂၀၀/၄-၃/အဖရ(မွန်)( ၀၄၂၅ )

ရက်စွဲ၊ ၂၀၁၉ခုနှစ်၊ ဩဂုတ်လ ၂၉ ရက်

သို့

/ အတွင်းရေးမှူး

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

(မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၂-၇-၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/၄/နသေ/၂၀၁၉(၀၂၃)

သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၄၈)၊ ပရော့ကဝိုင်ကွင်း၊ ဦးပိုင်အမှတ် (၉၊ ၁၀၊၁၁၊ ၁၁ (က)၊ ၃၇) ရှိ မြေ (၁၁.၈၇) ကေတွင် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် Myanmar Pyi Hein Mon International Co.,Ltd မှ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြလာခြင်းအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ (၁၄-၈-၂၀၁၉)ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွန်ပြည်နယ်အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၃၂/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၈)အရ ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဝန်ကြီးချုပ် ( ကိုယ်စား )

(မြင့်သန်းဝင်း၊ ညွှန်ကြားရေးမှူး)

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး

လုံခြုံ့လည်စာတွဲ

ရုံးလက်ခံ

2 2019 August 51

**အကြောင်းအရာ။ Myanmar Pyi Hein Mon International Co.,Ltd.မှ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Myanmar Pyi Hein Mon International Co.,Ltd. |
| | ရင်းနှီးမြှုပ်နှံသူ | ဦးဝင်းထိန်၊ မန်နေဂျင်းဒါရိုက်တာ |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ်၊ ပင်ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကပိုင်ကွင်း၊ ဦးပိုင်အမှတ်(၉၊ ၁၀၊ ၁၁၊ ၁၁(က)၊ ၃၇ ရှိ မြေ (၁၁.၈၇) ဧက |
| ၃။ | မြေပိုင်ရှင် | - ဦးဝင်းထိန် ၊ မန်နေဂျင်းဒါရိုက်တာ |
| | မြေအကျယ်အဝန်း | - ၁၁.၈၇ ဧက |
| | **အဆောက်အဦ အရေအတွက်** | စက်ရုံဂိုဒေါင် (၁ ထပ်) ၁ လုံး<br>ဆားကြမ်းဂိုဒေါင် (၁ ထပ်) ၆ လုံး<br>ဆားချောဂိုဒေါင် (၁ ထပ်) ၂ လုံး<br>ဆားရေကန် ၂ကန်<br>**စုစုပေါင်း: ၉လုံး /၂ကန်** |
| | နှစ်စဉ်မြေငှားရမ်းခ<br>မြေ/ အဆောက်အဦ ငှားရမ်း / အသုံးပြုခွင့်သက်တမ်း | ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၂ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၄၀၁၀.၄၃၀ သန်း |
| | **ထည့်ဝင်သည့်အမျိုးအစား** | |
| | (က) ငွေသား | - ကျပ်သန်း ၁၄၁၅.၀၀၀ |
| | (ခ) အဆောက်အဦ တန်ဖိုး ကုန်ကျစရိတ် | - ကျပ်သန်း ၈၂၀.၀၀၀ |
| | (ဂ) ရုံးသုံးပစ္စည်းများ | - ကျပ်သန်း ၁၀၁.၆၅၀ |
| | (ဃ) စက်ပစ္စည်းကိရိယာ | - ကျပ်သန်း ၁၆၇၃.၇၈၀ (USD 1118000 အပါအဝင်) |
| | **စုစုပေါင်း:** | - **ကျပ်သန်း၄၀၁၀.၄၃၀ ( USD 1118000 အပါအဝင်)** |

| | | |
|---|---|---|
| ၇။ | ရောင်းချမှုနည်းစနစ် | ပြည်တွင်း ( 100%) |
| ၈။ | **ရောင်းချမှုနှင့် ဈေးနှုန်း** | **တစ်နှစ်ထုတ်လုပ်မှု အရေအတွက် ( တန်)** / **တစ်တန်ဈေးနှုန်း (ကျပ်/တန်)** |
| | (က) Iodine ဆားချော (၅၀) kg | ၁၀၀၀၀ / ၁၈၀၀၀၀ |
| | (ခ) Iodine ဆားချော (၁) kg | ၅၀၀၀ / ၅၀၀၀၀၀ |
| | (ဂ) Iodine ဆားချော (၅၀၀) g | ၃၀၀၀ / ၆၀၀၀၀၀ |
| | (ဃ) Iodine ဆားချော (၂၀၀) g | ၂၀၀၀ / ၁၀၀၀၀၀၀ |
| | (င) Powder Salt (၅၀ kg) | ၂၀၀၀ / ၁၂၀၀၀၀၀ |
| | (စ)ရိုးရိုးလုပ်ငန်းသုံးဆား ( ၅၀kg ) | ၅၀၀၀ / ၁၂၀၀၀၀ |
| | (ဆ) ဝဲ ( မြေဩဇာ) ဆား | ၃၀၀၀ / ၆၀၀၀၀ |
| | **စုစုပေါင်း** | **၃၀၀၀၀** / - |
| ၉။ | **ဝန်ထမ်းခန့်ထားမှု** | **ပြည်တွင်း** / **ပြည်ပ**<br>ဦးရေ ၁၃၄ ဦး / -<br><br>အမြင့်ဆုံးလစာ ကျပ်၁၀၀၀၀၀၀<br>အနိမ့်ဆုံးလစာ ကျပ် ၃၀၀၀၀၀ |
| ၁၀။ | အခြားတင်ပြချက် | - မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး၊ ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထားရှိမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာနများ၏ လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိဝန်ခံမှုပြုထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေသတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်းကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - Myanmar Pyi Hein Mon International Co.,Ltd.သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-101088030 ဖြင့် ၁၀.၄.၂၀၁၄ ရက်နေ့တွင် မှတ်ပုံတင်ထားကြောင်းတွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| | | - ကုမ္ပဏီတွင် ဒါရိုက်တာအစုရှင် (၄)ဦးပါဝင်ပြီးကုမ္ပဏီ၏ အစုရှယ်ယာ ၆၀% ကို မန်နေဂျင်းဒါရိုက်တာဦးဝင်းထိန် ပိုင်ဆိုင်ကြောင်းတွေ့ရှိရပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ သံဖြူဇရပ်မြို့နယ် ပင‌ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၉၄၈)၊ ပရော့ကဝိုင်ကွင်း ဦးပိုင်အမှတ် ( ၉၊၁၀၊၁၁၊ ၁၁(က)၊ ၃၇ ရှိမြေ ( ၁၁.၈၇) ဧက တွင် အိုင်အိုဒင်းဆားချောထုတ်လုပ်သည့်လုပ်ငန်းလုပ်ဆောင် ရန် ပုံစံ (၁၀၅) / (၁၀၆)တင်ပြထားကြောင်းတွေ့ရှိရပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့် မြေသည် လယ်ယာမြေ အမျိုးအစား ဖြစ်ပြီး လယ်ယာမြေ အခြားနည်းအသုံးပြုခွင့်ရရှိရေးအတွက် ဆောင်ရွက်ဆဲဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 1079 ဖြစ်ပြီး MICအမိန့် ကြော်ငြာစာအမှတ်၊၁၃/၂၀၁၇ အပိုဒ်(၁)(ဃ)အမှတ်စဉ်(၂၉ ) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သောမွန်ပြည်နယ်၊သံဖြူဇရပ်မြို့နယ် သည် MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန်(၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(၈)အရ ဝင်ငွေခွန်ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သော လုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇(က) အရ လုပ်ငန်း တည်ဆောက်မှုကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေး ပစ္စည်းများနှင့်လုပ်ငန်းသုံးပစ္စည်းများအတွက်အကောက်ခွန် ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့်လုပ်ငန်း ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |



ပုံစံ (၄ - ခ)

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ၀၃၅
ရရှိရက်စွဲ ၁၇.၇.၂၀၁၉
ရရှိအချိန် ၁၅:၀၀ နာရီ
လက်ခံ...

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

.................................. တိုင်းဒေသကြီး / ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊

ရက်စွဲ ၂၀ ခုနှစ်၊ လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ..................................

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..................................

(ဂ) နိုင်ငံသား ..................................

(ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့်ကုမ္ပဏီလိပ်စာ ..................................

..................................

(င) တယ်လီဖုန်း /ဖက်စ် / အီးမေးလ်လိပ်စာ ..................................

(စ) လုပ်ငန်းအမျိုးအစား(အသေးစိတ်ဖော်ပြပေးရန်) ..................................

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲတင်ပြရန်-

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူ၊နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ..................................

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ..................................

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ..................................

(ဃ) နိုင်ငံသား ..................................

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ ..................................

..................................



Form (4 - B)

## Endorsement Application Form

To,

Chairman

----------------Region/State Investment Committee

Reference No.

Date.

I do apply for the endorsement in accordance with the Section 37 of the Myanmar Investment Law by furnishing the following particulars:

1. The Investor's :-

(a) Name ........................................................................

(b) Company Registration No/ ID No/ National Registration Card No /Passport

........................................................................

(c ) Citizenship ........................................................................

(d) Address/ Address of Registered Office

........................................................................

(e ) Phone /Fax / E -mail: ........................................................................

(f) Type of Business(to describe in detail) ........................................................................

**Note:** The following documents need to be attached according to the above paragraph (1) :-

(1) Company Registration Certificate (copy);

(2) ID No/ National Registration Card (copy) and Passport (copy);

2. If the investor don't apply for endorsement by himself / herself, the applicant;

(a) Name........................................................................

(b) Name of contact person ........................................................................

(if applicant is business organization)

**Note:** describe with attachment of letter of legal representative

(c) ID No./ National Registration Card No./Passport No. ........................................................................

(d) Citizenship ........................................................................

(e) Address in Myanmar : ........................................................................

(f) Phone / Fax : ........................................................................

(g) E-mail : ........................................................................

ပုံစံ (၄ - ခ)

## အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ

မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ

စာအမှတ် ၊ ဝ၃ဝ / ၂ဝ၁၉

ရက်စွဲ ၊ ၂ဝ၁၉ ခုနှစ် ၊ ဇူလိုင် လ ( ၁၇ ) ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇နှင့်အညီ အောက်ဖော်ပြပါ အချက်များအား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည် -

၁။ ရင်းနှီးမြှုပ်နှံသူ၏

(က) အမည် ........ ဦးဝင်းထိန်

(ခ) ကုမ္ပဏီမှတ်ပုံတင်အမှတ် သို့မဟုတ် ........ No - 101088030

ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် ........ ၁၀/မလမ (နိုင်) ၁၁၉၁၆၇

အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ........ MD 227916

(ဂ) နိုင်ငံသား ........ မြန်မာ

(ဃ) နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့် ကုမ္ပဏီလိပ်စာ ........ အမှတ် (၂၄၂) ၊ အောက်လမ်းမကြီး ၊ ရွှေတောင်ရပ် ၊ မော်လမြိုင်မြို့ ၊ မွန်ပြည်နယ် ။

(င) တယ်လီဖုန်း/ဖက်စ်/အီးမေးလ်လိပ်စာ ........ 09-428727553, 057-2024793

winhtein8727553@gmail.com

(စ) လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြပေးရန်) အိုင်အိုဒင်းဆားချောထုတ်လုပ်ခြင်းလုပ်ငန်း

မှတ်ချက် ။ အောက်ပါအချက်များကို ပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ။

(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါက လျှောက်ထားသူ၏ -

(က) အမည် ........

(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် ........

(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)

(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ........

(ဃ) နိုင်ငံသား ........

(င) မြန်မာနိုင်ငံတွင် နေထိုင်သည့် နေရပ်လိပ်စာ ........

........

(စ) တယ်လီဖုန်း/ဖက်စ် ..............................................................................

(ဆ) အီးမေးလ်လိပ်စာ ..............................................................................

မှတ်ချက် ။ တရားဝင်ကိုယ်စားလှယ်လွှဲစာ ပူးတွဲတင်ပြရန်

၃ ။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☑ ရာနိုင်နှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ..........၁၀၀.......... %

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ..........မရှိ.......... %

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး ..........မရှိ.......... %

၄ ။ အစုရှယ်ယာ ၁၀% နှုန်းနှင့် အထက်ပိုင်ဆိုင်သော အစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| ၁ ။ | ဦးဝင်းထိန် | မြန်မာ | ၆၀% |
| ၂ ။ | ဒေါ်ကျင်စီဌေး | မြန်မာ | ၂၀% |
| ၃ ။ | ဒေါ်ဝင်းစုပိုင် | မြန်မာ | ၁၀% |
| ၄ ။ | ဦးပြေမင်းသီဟ | မြန်မာ | ၁၀% |
| | | | |
| | | | |

၅ ။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ..........သန်း (၅၀)..........

(ခ) အစုရှယ်ယာအမျိုးအစား ..........သာမန်..........

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့်အစုရှယ်ယာပမာဏ ..........သန်း (၅၀)..........

..............................................................................

မှတ်ချက် ။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း (သို့မဟုတ်) ကုမ္ပဏီဖွဲ့စည်းပုံ အခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန် ။

၆ ။ မတည်ငွေရင်းနှင့် သက်ဆိုင်သည့်အချက်အလက်များ -

ကျပ် / (သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း ..........၄၀၁၀.၄၃..........
ပမာဏ / ရာနိုင်နှုန်း

မှတ်ချက် ။ ။ ငွေကုန်ကျစရိတ်ထဲမှ ပြည်ပစက်ပစ္စည်းဝယ်ယူမှု US-1118000 ပါဝင်ပါသည်။ 1515/- နှုန်းဖြင့် တွက်ချက်ထားပါသည်။

